# "မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်"

MYAT MYINTTAR MON SERVICES CO., LTD.

က

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ သီလဝါဆိပ်ကမ်းဒေသ၊

အမှတ်-၁၊ ၂ (အေ)ရှိ

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေကို B.O.T စနစ်ဖြင့် ငှားရမ်း၍

စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့်

စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား

သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း

ဆောင်ရွက်ရန်အတွက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

အဆိုပြုချက်တင်ပြချက်

## မာတိကာ

၁၂။ သဘောထားမှတ်ချက်များ

- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်
- သတ္တုတွင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်
- စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်
- မီးသတ်ဦးစီးဌာန၏ သဘောထားမှတ်ချက်

၁၃။ EIA နှင့် SIA ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

၁၄။ မီးဘေးကြိုတင်ကာကွယ်ရေးအတွက် အစီအစဉ်များတင်ပြခြင်း



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပို့ဆောင်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ / ခွဲ (၁) ၂၀၁၂ (၁၂/၄၄၄)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်

အကြောင်းအရာ။ **စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတစ်စင်းနှင့် ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီ သိုလှောင်ကန်များနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ခွင့်ပြုပါရန်ကိစ္စ**

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရသည် စက်သုံးဆီ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများကို ပုဂ္ဂလိကလုပ်ငန်းရှင်များအား ခွင့်ပြုခဲ့ပြီးဖြစ်ရာ၊ အဆိုပါလုပ်ငန်းအား အထောက်အကူပြုသည့် စက်သုံးဆီတင်သွင်းခြင်းလုပ်ငန်း ဆောင်ရွက်သွားနိုင်ရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သည့် သီလဝါဆိပ်ကမ်းနယ်မြေရှိ မြေကွက်များတွင် ပုဂ္ဂလိကကုမ္ပဏီများသို့ ပို့ဆောင်ရေးဝန်ကြီးဌာနမှ BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် မြေနေရာသတ်မှတ်အတည်ပြုပေးခဲ့ပြီး ဖြစ်ပါသည်။ ထိုကဲ့သို့ ချထားပြီးသော မြေကွက်များအနက်မှ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီ လီမိတက်၊ Apex Gas & Oil Public Co., Ltd (ယခင် Great Petroleum Terminal Ltd.) နှင့် ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Shwe Taung Energy Services Co., Ltd.) တို့အား သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၁)နှင့်(၂)တွင် နောက်ဆုံးအတည်ပြု သတ်မှတ်ချထားပေးထားပါသည်။

၂။ အဆိုပါကုမ္ပဏီ (၃) ခုအား ချပေးထားသော သီလဝါမြေကွက်အမှတ် (၁) နှင့် (၂) သည် စုစုပေါင်းမျက်နှာစာအလျား ၄၀၀ မီတာနှင့် အကျယ် ၇၅၀ မီတာရှိရာ၊ မျက်နှာစာအလျား ၁၃၃.၃၃ မီတာနှင့် အကျယ် ၇၅၀ မီတာစီရှိသော မြေကွက်(၃)ကွက်ပိုင်းခြားကာ၊ ကုမ္ပဏီတစ်ခုလျှင် တစ်ပိုင်းစီ ခွဲဝေအသုံးပြုရန် အဆိုပြုထားပါသည်။

၃။ ထိုသို့ကုမ္ပဏီ(၃)ခု၏ သဘောတူညီချက်အရ ပိုင်းခြားထားသော မြေကွက်အမှတ် ၁၊ ၂ (အေ) တွင်မြေနေရာချထားခြင်းခံရသည့် မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်လျက်

စက်သုံးဆီတင်/ချဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် နောက်ဆက်တွဲ(က) ပါစာဖြင့် တင်ပြထားပါသည်။

၄။ ကုမ္ပဏီအနေဖြင့် မြေကွက်အမှတ် ၁၊ ၂(အေ)ကို ကျောထောက်နောက်ခံပြုပြီး၊ မျက်နှာစာ အလျား ၈၄ မီတာ x အကျယ် ၁၃.၁ မီတာရှိ ဆိပ်ခံတံတားနှင့် အလျား ၁၇၇.၂၉ မီတာ x အကျယ် ၃.၆၆ မီတာအရွယ် ချဉ်းကပ်တံတားတစ်ခုပါဝင်သော ပင်မဆိပ်ခံတံတားတစ်စင်းနှင့် အလျား ၁၆.၇၇ မီတာ x ၁၃.၁ အကျယ် မီတာရှိ ကြိုးချည်စင်(၁)စင်ပါဝင်သည့် ကွန်ကရစ်ဆိပ်ခံတံတား တစ်စင်းကို တည်ဆောက်ရန် အဆိုပြုထားပါသည်။ ထို့ပြင် ကျောထောက်နောက်ခံမြေပေါ်တွင် စက်သုံးဆီဂါလန် ၅ သိန်းဆံ့ သိုလှောင်ကန်(၂)လုံး၊ ဂါလန် ၁ သန်းဆံ့ သိုလှောင်ကန်(၂)လုံးနှင့် အခြား လုပ်ငန်း အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ကာ စက်သုံးဆီသိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားပါသည်။

၅။ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားများကို BOT စနစ်ဖြင့် တည်ဆောက်ခွင့်ပြုခြင်းအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ်သိန်း (၁၅၀)နှုန်း ပေးဆောင်ရန်နှင့် မြေငှားရမ်းခအား မြေဧရိယာ ၃၇ ဧကအတွက် တစ်လလျှင်ကျပ် သိန်း(၂၀၀)အခြေခံနှုန်း(မြေတစ်ဧကအတွက်တစ်လလျှင်ငွေကျပ် ၅၄၀,၅၄၀.၅၄ နှုန်း)ဖြင့် ကောက်ခံ ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၀-၈-၂၀၁၂ ရက်နေ့တွင်စာအမှတ်၊ ရက-၁/မ-ထွေ/ ၂၀၁၂ (၁၀၃၈၄-၄၅) ဖြင့် လမ်းညွှန်ထားပါသည်။

၆။ ထို့ကြောင့် မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အနေဖြင့် ကျောထောက်နောက်ခံ မြေဧရိယာ ၂၄.၇၁ ဧကအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင်ကျပ် ၁၅၀ သိန်း နှုန်းဖြင့် ကျသင့်ငွေကျပ် ၃၇၀,၆၅၀,၀၀၀/- ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ကုမ္ပဏီမှ ပေးသွင်းရ မည်ဖြစ်ပါသည်။

၇။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ တည်ဆောက်မည့် စက်သုံးဆီတင်/ချ ဆိပ်ခံ တံတားတည်နေရာ၏ စုစုပေါင်းဧရိယာ ၅.၇၄ ဧကရှိမည်ဖြစ်ရာ လစဉ်မြေငှားရမ်းခအနေဖြင့် တစ်ဧကလျှင် ကျပ် ၅၄၀,၅၄၀.၅၄ နှုန်းဖြင့် တွက်ချက်ပါက ငွေကျပ် ၃,၁၀၂,၇၀၃/- ကျသင့်မည် ဖြစ်ပါသည်။ မြေကွက်အမှတ် ၁၊ ၂ (အေ) ၏ ကျောထောက်နောက်ခံမြေဧရိယာမှာ ၂၄.၇၁ ဧက ရှိမည်ဖြစ်သဖြင့် တစ်ဧကလျှင် ကျပ် ၅၄၀,၅၄၀.၅၄ နှုန်း ဖြင့် တွက်ချက်ပါက လစဉ်ငှားရမ်းခငွေမှာ

ကျပ် ၁၃,၃၅၆,၇၅၇/- ဖြစ်သဖြင့် စုစုပေါင်း လစဉ်မြေငှားခ ကျသင့်ငွေမှာ ကျပ် ၁၆,၄၅၉,၄၆၀/- ( ၃,၁၀၂,၇၀၃ + ၁၃,၃၅၆,၇၅၇) ဖြစ်ပါသည်။

၈။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် ဆိပ်ခံတံတားတစ်စင်း၊ စက်သုံးဆီ သိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက်အအုံများကို ငွေကျပ်သန်းပေါင်း ၆,၆၆၄ ခန့်နှင့် အမေရိကန်ဒေါ်လာ ၁၈ သန်းခန့် အကုန်အကျခံ၍(၂)နှစ်အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို အပြီးဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ တည်ဆောက်ရေးလုပ်ငန်းများကို ကြိုတင်ဆောင်ရွက်ခွင့်ပြုထားပြီးဖြစ်သဖြင့် စက်သုံးဆီကုမ္ပဏီများမှ ၁၂-၆-၂၀၁၁ ရက်နေ့က ပြုလုပ်ခဲ့သော အစည်းအဝေးတွင် တင်ပြထားသည့် စက်သုံးဆီများတင်/ချသိုလှောင်ခြင်း၊ ဖြန့်ဖြူး ခြင်းလုပ်ငန်းများ စတင်ဆောင်ရွက်ရန် လျာထားသည့်နေ့၏ နောက်တစ်နေ့ ၁-၁-၂၀၁၃ ရက်နေ့မှ စတင်ပြီး မြေငှားရမ်းခများကို ကောက်ခံသွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၉။ ထို့အပြင် လုပ်ငန်းခွင့်ပြုချက် ရရှိပြီးသူများအနေဖြင့် ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆိပ်ခံတံတားနှင့် နောက်ခံအဆောက်အဦများ ဆောက်လုပ်ခြင်း လုပ်ငန်းကို ၅၀ % ကျော်ပြီးစီးရန်နှင့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆောက်လုပ်ခြင်းလုပ်ငန်း အားလုံးပြီးစီးရမည်ဖြစ်ပြီး၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ(၁)ရက်နေ့မှစ၍ လုပ်ငန်းများစတင်ဆောင်ရွက်နိုင်ရမည်ဟု ၁-၈-၂၀၁၂ ရက်နေ့က ပြုလုပ် ခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃/၂၀၁၂) ကြိမ်မြောက် အစည်းအဝေးတွင် လမ်းညွှန်ထားပါသဖြင့် သက်ဆိုင်ရာ စက်သုံးဆီဆိပ်ကမ်း ဆောက်လုပ်ခွင့်ရရှိသူများသို့လည်း ညွှန်ကြားထားပြီး ဖြစ်ပါသည်။

၁၀။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အား သီလဝါဆိပ်ကမ်းနယ်မြေ မြေကွက်အမှတ်၊ ၁၊ ၂ (အေ)ကို ကျောထောက်နောက်ခံပြု၍၊ ရန်ကုန်မြစ်အတွင်း စက်သုံးဆီတင်/ချဆိပ်ခံတံတား တစ်စင်း၊ ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက် အအုံများ တည်ဆောက်၍၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွင့်အရေးများကို ခံစား ခွင့်ပြုလျက် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုနိုင်ပါရန်ကိစ္စကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ ရန်၊၂၃-၁၀-၂၀၁၂ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် ၁၅/၂၀၁၂ က သဘောတူထားပြီးဖြစ်ပါသည်။

၁၁။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ သီလဝါဒေသတွင် စက်သုံးဆီသိုလှောင် ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်ကိစ္စအတွက် ခွင့်ပြုသင့်ကြောင်း ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ **နောက်ဆက်တွဲ(ခ)** ပါစာဖြင့် ထောက်ခံတင်ပြထားပါသည်။

၁၂။ ဆီသိုလှောင်ကန်များ ဆောက်လုပ်ခြင်းနှင့် ဆီပိုက်များ သွယ်တန်းခြင်းအတွက် သတ္တုတွင်း ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ(ဂ)** ဖြင့်လည်းကောင်း၊ စွမ်းအင်ဝန်ကြီး ဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ(ဃ)** ဖြင့်လည်းကောင်း၊ မီးဘေးကြိုတင်ကာကွယ် ရေးအစီအမံအတွက် မီးသတ်ဦးစီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ(င)** ဖြင့် လည်းကောင်း တင်ပြထားပါသည်။

၁၃။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားတည်ဆောက် ခြင်းအတွက် သဘာဝပတ်ဝန်းကျင်အကျိုးသက်ရောက်မှုများလေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)အား National Engineering and Planning Services Co., Ltd. အဖွဲ့သို့ လုပ်ငန်းအပ်နှံဆောင်ရွက်ထားပြီး ၎င်းအဖွဲ့မှ EIA အစီရင်ခံစာရရှိပါက ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရရှိရန် ဆက်လက်တင်ပြ သွားမည်ဖြစ်ကြောင်း မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ **နောက်ဆက်တွဲ(စ)**ဖြင့် တင်ပြ ထားပါသည်။

၁၄။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အား သီလဝါဆိပ်ကမ်းနယ်မြေ မြေကွက်အမှတ်၊ ၁၊ ၂ (အေ)ကို ကျောထောက်နောက်ခံပြု၍၊ ရန်ကုန်မြစ်အတွင်း စက်သုံးဆီတင်/ချဆိပ်ခံတံတား တစ်စင်း၊ ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက် အအုံများကို BOT စနစ်ဖြင့် အကောင်အထည်ဖော်တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်း နှင့်ပတ်သက်သည့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက် တို့အကြားချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များကိုလည်း တောင်းခံထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ အကြံပြုချက်ပြန်ကြားစာနှင့် သဘောထား မှတ်ချက်၊ အကြံပြုချက်၊ ထပ်မံညှိနှိုင်းဆွေးနွေးချက်များနှင့်အညီ ပြုစုထားသော ပဋိညာဉ်စာချုပ် (မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) ကို **နောက်ဆက်တွဲ (ဆ)** ဖြင့် ပူးတွဲတင်ပြထားပါသည်။

၁၅။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အား သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ်၊ ၁၊ ၂ (အေ)ကို ကျောထောက်နောက်ခံပြုပြီး၊ ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်းနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်၍ စက်သုံးဆီသိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုခြင်းအားဖြင့် နိုင်ငံတော်စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပြီး၊ တင်သွင်းခွင့် ရရှိထားသော စက်သုံးဆီများကို လိုအပ်သည့်အချိန်တွင် မိမိပိုင်ဆိပ်ခံတံတားမှတစ်ဆင့် ဖြန့်ဖြူး နိုင်ခြင်းကြောင့် ဈေးကွက်အတွင်း စက်သုံးဆီပြတ်လပ်သည့် အခက်အခဲကို ကျော်လွှားနိုင်မည် ဖြစ်ပါသည်။

၁၆။ သို့ဖြစ်ပါ၍ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အနေဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းနယ်မြေ မြေကွက်အမှတ် ၁၊ ၂ (အေ)တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံ တံတားတစ်စင်းနှင့် ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်ဖြစ်ပါသည်။ ထိုကဲ့သို့ ခွင့်ပြုခြင်း အတွက် လစဉ်မြေငှားရမ်းခငွေကျပ် ၁၆,၄၅၉,၄၆၀/- (ကျပ် တစ်ဆယ့်ခြောက်သန်း လေးသိန်း ငါးသောင်းကိုးထောင့် လေးရာခြောက်ဆယ်တိတိ) ကိုလည်းကောင်း၊ မြေအသုံးချမှုပရီမီယံကြေးငွေ ကျပ် ၃၇၀,၆၅၀,၀၀၀/-(ကျပ်သုံးရာ့ခုနစ်ဆယ်သန်း ခြောက်သိန်း ငါးသောင်းတိတိ)ကို လည်းကောင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေလျက်၊ မြေငှားရမ်းကာလ/ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ (၃၀)နှစ် ခွင့်ပြုသည့် BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

D:\DHWE-I (WATER TRANSPORT)\2012\S3-PA SA (MPA)\ MOT MIC HH Folder 19-12-2012 CE-2

နောက်ဆက်တွဲ (က)



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
Myat Myinttar Mon Services Company Limited.
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638

စာအမှတ်၊ MMMS / MIC / 2011 ( 5 )
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ၊ ( ၃၀ )ရက်

သို့
ဦးညာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး
ပို့ဆောင်ရေးဝန်ကြီးဌာန
နေပြည်တော်

**အကြောင်းအရာ ။ သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက် အမှတ် ၁၊၂ (အေ) တွင် တည်ဆောက်မည့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့်စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ရေး လုပ်ငန်းများ ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိရေးအတွက် ကူညီပံ့ပိုးပေးပါရန် တင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်း သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် (၁၊၂) ( အေ ) တွင် **"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (Myat Myinttar Mon Services Co., Ltd. )**သည် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ကန် ကန်များ တည်ဆောက်ခွင့်ရရှိထားပြီးဖြစ်ပါ၍လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်။

၂။ စက်သုံးဆီ တင်/ချဆိပ်ခံတံတားကို အလျား ၁၃၁ မီတာ ( ၄၂၉ ပေ ၉ လက်မ )၊ အကျယ် ၄၃ ပေ ၊ ချဉ်းကပ်တံတားကို အလျား ၅၈၁ ပေ ၆ လက်မ၊ အကျယ် ၁၂ ပေ တည်ဆောက်သွားမည်ဖြစ်ပါသည်။ ဆီတန်ချိန် ၆၀၀၀ အရွယ်အစားရှိ သင်္ဘောတစ်စင်း ဆိုက်ကပ်နိုင်အောင် ဆောင်ရွက်မည်ဖြစ်ပြီး ပြည်တွင်းရေယာဉ်များအတွက် တန်ချိန် ၅၀၀ မှ ၂၀၀၀ အထိ ဆိုက်ကပ်နိုင်အောင် တည်ဆောက်မည်ဖြစ်ပါသည်။

၃။ စက်သုံးဆီသိုလှောင်ကန် ဂါလန် ( ၅ ) သိန်းဆန့် ( ၂ ) လုံး နှင့် ( ၁ ) သန်းဆန့် ( ၂ ) လုံးကို ကျောထောက်နောက်ခံမြေတွင် တည်ဆောက်ပြီးဖြစ်ပါသည်။

၄။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းကို အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | တံတားတည်ဆောက်မည့်နေရာ | - သီလဝါဆိပ်ကမ်းဒေသ၊ ရန်ကုန်တိုင်းဒေသကြီး |
| (ခ) | အကွက်အမှတ် | - ၁ -၂ ( အေ ) |
| (ဂ) | မြေကွက်အရွယ်အစား | - ၁၃၃. ၃၃ မီတာ × ၇၅၀ မီတာ |
| (ဃ) | ဆိပ်ခံတံတားအမျိုးအစား | - သံကူကွန်ကရစ်ဆိပ်ခံတံတား |
| (င) | ဆိပ်ခံတံတားအရွယ်အစား | - ပင်မတံတားအလျား ၁၃၁ မီတာ၊ အကျယ် ( ၄၃ ) ပေ၊ ချဉ်းကပ်တံတား အလျား ၅၈၁ ပေ ၆ လက်မ၊ အကျယ် ၁၂ ပေ |
| (စ) | ဆိုက်ကပ်နိုင်သော ဆီတင် သင်္ဘောအရွယ်အစား | - တန်ချိန် ၆၀၀၀ ရေစူး ၇ မီတာ |
| (ဆ) | စက်သုံးဆီအမျိုးအစား | - ဒီဇယ်ဆီ ၊ ဓါတ်ဆီ |
| (ဇ) | သိုလှောင်ကန်အရွယ်အစား | - ဂါလန် ( ၅ ) သိန်း( နှစ် ) လုံး ဂါလန် ( ၁ )သန်း ( နှစ် ) လုံး |

၅။ စီမံကိန်းအား ၂၀၁၀ပြည့်နှစ်၊ ဒီဇင်ဘာလမှစတင်ခဲ့၍ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ၊ (၃၀) ရက်ထိ ဆောင်ရွက်ပြီးစီးအခြေအနေမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | မြေကြီးလုပ်ငန်း | ၇၅ % ။ |
| (ခ) | မြေစမ်းသပ်ခြင်းလုပ်ငန်း | ၁၀၀ % ။ |
| (ဂ) | အဆောက်အဦနှင့် ဆီသိုလှောင်ကန်တည်ဆောက်ခြင်း | ၈၀ % ။ |
| (ဃ) | ခြံစည်းရိုးကာရန်ခြင်း | ၈၅ % ။ |
| (င) | ဆိပ်ခံတံတားဆောက်လုပ်ခြင်း | ၅ % ။ |

၆။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်း လုပ်ငန်းကို ပြည်တွင်းငွေကျပ် သန်းပေါင်း ( ၆၆၆၄ ) နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ( ၁၈ ) သန်းဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြသည့် သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် အကွက်အမှတ် ( ၁ ၊ ၂ ) ( အေ ) တွင် ဆောင်ရွက်မည့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များတည်ဆောက်ရေး စီမံကိန်းကို ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီခွင့်ပြုပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေပြဌာန်းချက်များနှင့်အညီ ခွင့်ပြုမိန့်ဖြင့် ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ခွင့်ရရှိရေး အတွက် ဆက်လက်လျှောက်ထားခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းမြင့်
မန်နေဂျင်းဒါရိုက်တာ

ပူးတွဲတင်ပြချက်-

(၁) အဆိုပြုဆီတင်/ချဆိပ်ခံတံတားစီမံကိန်းမြေပုံ
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် (မူကြမ်း)
(၃) အဆိုပြုဆိပ်ခံတံတားနှင့်ဆီသိုလှောင်ကန်များတည်ဆောက်ရေးစီမံကိန်း၏ပဋိညာဉ်စာချုပ် (မူကြမ်း)
(၄) ရင်းနှီးမြှုပ်နှံမှုဆိုင်ရာစာရင်းဇယားများ

မိတ္တူ-

(၁) ဒုတိယဝန်ကြီး (ပို့ဆောင်ရေးဝန်ကြီးဌာန)
✓(၂) ဦးဆောင်ညွှန်ကြားရေးမှူး (မြန်မာ့ဆိပ်ကမ်းအာဏာပိုင်)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ၂၁၃၇ တိုင်းဒေသကြီးအစိုးရအဖွဲ့
## ၁၇၂၁၁ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၁၇ (၂) / စီးပွား
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁၀-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက်-၆(က)/ မ-၁၁၈၉/၂၀၁၁ (၁၂၃၈၇-ကံ)

၁။ မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Myat Myittar Mon Services Co.,Ltd) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စုစုပေါင်းမြေအကျယ်အဝန်း(၂၄. ၇၁)ဧကရှိသော သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်- ၁၊ ၂(အေ)၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေတွင် BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီသိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီသိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုခြင်းဖြင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါမည်။

(ခ) အဆိုပြုမြေနေရာတွင်လုပ်ငန်းဆောင်ရွက်သင့်ပြီး လက်ရှိတွင် ဂါလံ(၁)သန်းဆံ့ သိုလှောင်ကန် (၁)လုံးနှင့် ဂါလံ(၅)သိန်းဆံ့သိုလှောင်ကန်(၂)လုံးတည်ဆောက်ပြီးစီးပြီဖြစ်ကာ ဂါလံ (၁)သန်းဆံ့ သိုလှောင်ကန်မှာတည်ဆောက်ဆဲဖြစ်ပါသည်။

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်စေရန် ထိန်းသိမ်းခြင်း၊ ရေဆိုးနှင့်စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းသည့်စက်ကိရိယာများ တပ်ဆင်မှု အပါအဝင် စွန့်ထုတ်ရေသန့်စင်စက်ရုံ (Sewage Treatment Plant)တို့ထည့်သွင်းတည်ဆောက်ကာ အဆင့်ဆင့်စနစ်တကျဆောင်ရွက်မည့် အစီအမံများလုပ်ဆောင်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၁၄-၁၁-၂၀၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၂/ ၂၀၁၁)၏ ဆုံးဖြတ်ချက်အပိုဒ်(၃၈)အရ မြတ်မေတ္တာမွန် ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Myat Myittar Mon Services Co.,Ltd)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

တိုင်းဒေသကြီးဝန်ကြီး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၅၇ - ခွဲ(၃) ၁၁ ( ၁၂၄ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ၊ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁.၁၀.၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-မ(က)/မ-၁၁၈၉/၂၀၁၁(၁၂၃၈၇-၈)

၁။ ရည်ညွှန်းစာပါ အကြောင်းအရာ ကိစ္စနှင့်ပတ်သက်၍ မြတ်မေတ္တာမွန်ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ ဒီဇယ်ဆီ မြေပေါ်သိုလှောင်ကန် (၆)လုံးတို့အား တည်ဆောက် သိုလှောင်သွားမည်ဖြစ်ရာ မြေပေါ်သိုလှောင်ခွင့် "L" လိုင်စင်ပါ ကန့်သတ်ချက်များအရ ဂါလန်(၁)သိန်းအထက် သိုလှောင်တန်များ ဖြစ်သည့်အတွက် သိုလှောင်ကန် တစ်ကန်နှင့် တစ်ကန်ကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေခွာ၍ တည်ဆောက်ရန်နှင့် ပေ(၁၀၀)ထက် နီးကပ်စွာ တည်ဆောက်မည်ဆိုပါက သိုလှောင်ကန် နှစ်ကန် ကြားတွင် မီးတားနံရံ (Fire Screen Wall) အား ပို၍ အမြင့်ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ မြတ်မေတ္တာမွန်ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာပါစာအရ စက်သုံးဆီမြေပေါ် သိုလှောင်ကန် (၆)လုံး တည်ဆောက်ရာတွင် အပိုဒ်(၁)ပါ "L" လိုင်စင် ကန့်သတ်ချက်များအတိုင်း တည်ဆောက်မည်ဆိုပါက သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

( မင်းမင်းဦး၊ ရုံးအဖွဲ့မှူး )

နောက်ဆက်တွဲ (ဃ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ ၀၀၁ / ၁ / ၈ /(၁၄၁၄ )
ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၁၀-၂၀၁၁ ရက်စွဲပါစာအမှတ် ရက-မ(က) / မ-၁၁၈၉/၂၀၁၁(၁၂၃၈၇-ဃ)

၁။ မြတ်မေတ္တာမွန် ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Myat Myittar Mon Services Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ သီလဝါ ဆိပ်ကမ်းဒေသ၊ အမှတ်(၁)၊ အမှတ်(၂အေ)ရှိ မြေ(၂၄.၇၁)ဧက ကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင် သည့် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းမြင့်မှ အဆိုပြုတင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း ချက်ပါစာဖြင့် စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်းပြန်ကြားအပ်ပါသည်-

(က) စက်သုံးဆီသိုလှောင်ရန် ဝန်ဆောင်မှုဈေးနှုန်းများတင်ပြထားမှုသည် သင့်လျော်မှုရှိပါသည်။

(ခ) ပြည်ပမှတင်သွင်းလာမည့် ကုန်ချော(စက်သုံးဆီ) ပမာဏ သင့်လျော်မှုရှိ-မရှိနှင့် စပ်လျဉ်း၍ တစ်လလျှင် ဆီတင်သင်္ဘော(၃)စီး ဆိုက်ကပ်မည်ဟု ခန့်မှန်းတွက်ချက်ထားပါသဖြင့် မြန်မာနိုင်ငံ တစ်နိုင်ငံလုံး၏ လိုအပ်ချက်အတွင်းဖြစ်သော်လည်း အခြားသောစက်သုံးဆီ သိုလှောင်တင်သွင်းမှုလုပ်ငန်း လုပ်ကိုင်မှုနှင့် ဆက်စပ်သုံးသပ်ရမည်ဖြစ်သဖြင့် အလားတူ စက်သုံးဆီ သိုလှောင်ဝန်ဆောင်မှုလုပ်ငန်း မည်မျှခွင့်ပြုမည်ကိုသိရှိရန်လိုအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( စိုးအောင်၊ ဒုတိယဝန်ကြီး )

MyatMyittarLH(4-11-2011)

နောက်ဆက်တွဲ (င)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန
တိုင်းဒေသကြီးမီးသတ်ဦးစီးဌာနမှူးရုံး ၊ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂၇၄ / ၁၁ / ၁၂ / ဦး - ၁
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

သက်ဆိုင်ရာ

အကြောင်းအရာ။ **ထောက်ခံချက်ထုတ်ပေးခြင်း**

ဖြတ်ပေတ္တာပွန်ကုမ္ပဏီလီမိတက် စက်သုံးဆီလှောင်ကန်သည် ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ သန်လျင်မြို့နယ်၊ သီလဝါစက်မှုဇုန်၊ မြေကွက်အမှတ် ၁+၂ (အေ)အတွင်းတွင်တည်ဆောက်လျက်ရှိသောမြေပေါ် ဂါလံ ( ၅ )သိန်းဆန့် သိုလှောင်ကန် ( ၂ )လုံး၊မြေပေါ်ဂါလံ( ၁ )သန်းဆန့်သိုလှောင်ကန်( ၂ )ကန်၊မြေပေါ်ဂါလံ ( ၃ )သောင်းဆန့်သိုလှောင်ကန်( ၁ )ကန်ဆောက်လုပ်ခြင်းနှင့်ပတ်သက်၍သတ်မှတ်ချိန်စံညွှန်းနှင့်အညီဆောက်လုပ်ရန် နှင့်မီးသတ်ဦးစီးဌာန၏ မီးဘေးကြိုတင်ကာကွယ်ရေး ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံပါသည်။

တိုင်းဒေသကြီးမီးသတ်ဦးစီးဌာနမှူး
( ဦးသင်းဆွေဆွေ ၊ ဒုတိယညွှန်ကြားရေးမှူး )
ဖုန်း - ၃၈၄၄၂၀

မိတ္တူ

လက်ခံစာတွဲ

## အကြံပြုချက်များ

(က) စက်သုံးဆီသိုလှောင်ကန်များအနီး မြက်ပင်များ၊ ကိုင်းပင်များ၊ အမှိုက်သရိုက်များနှင့် လောင်စာများကို ရှင်းလင်းဆောင်ရွက်ထားရှိရန်၊

(ခ) စက်သုံးဆီသိုလှောင်ကန်များတွင် အမြဲပ်မီးသတ်ဆေးရည် ပက်ဖျန်းနိုင်ရေးစနစ် (Fixed Installion Foam Inlet System) များ ထားရှိရန်နှင့် မီးသတ်ယာဉ်၏ ပိုက်ဆက်များဖြင့် အသင့်တပ်ဆင်ပက်ဖျန်းနိုင်ရေး အတွက် (Foam Inlet) ပိုက်ခေါင်းများ တပ်ဆင်ထားရှိရန်၊

(ဂ) စက်သုံးဆီသိုလှောင်ကန်များတွင် မီးလောင်မှုဖြစ်ပွားပါက မီးငြိမ်းသတ်နိုင်ရေးအတွက် ဆီမီး သတ်ယာဉ် (Foam Tender) ဝယ်ယူထားရှိရန်၊

(ဃ) စက်သုံးဆီသိုလှောင်ကန်များအနီးတွင် မီးသတ်စင် (Fire Point) များ၊ မီးချိတ်၊ မီးကပ်၊ သဲပုံး၊ သဲစည်များ၊ ဝါးပြား၊ လှေကားနှင့် တတ္ထဓာတ်ငွေ့ပေါင်းအမှုန့်ခြောက် မီးသတ်ဆေးဘူး (Dry Chemical Powder) များ ထားရှိရန်၊

(င) (Trolley Type Extinguisher) များထားရှိရန်၊

(စ) စက်သုံးဆီသိုလှောင်ကန်များတွင် သိုလှောင်မည့်ပမာဏအား အဖြူရောင်အောက်ခံပေါ်တွင် အနီရောင်စာလုံးဖြင့် ရေးသားထားရှိရန်၊

(ဆ) ဆီသိုလှောင်ကန်ပတ်ဝန်းကျင်တွင် တားမြစ်နယ်မြေသတ်မှတ်၍ မီးသတိပေးဆိုင်းဘုတ်များ တပ်ဆင် ထားရှိရန်၊

(ဇ) စက်သုံးဆီသိုလှောင်ကန်များတွင် အရေးကြီး၊ အရေးပေါ်ကိစ္စရပ်များ ဖြစ်ပေါ်လာပါက ပိတ်ရမည့် (Main Valve) များ၊ (Sub Valve) ထားရှိရန်၊

(ဈ) စက်သုံးဆီသိုလှောင်ကန်များတွင် (Dike)၊ (Bund) အကာအရံများ ဆောင်ရွက်ထားရှိရန်နှင့် သိုလှောင်ကန်နှင့် (Dike) အကြား Safety Vacant Space တွင် 1 $cm^3$ အရွယ် Chipping ကျောက် (၉) လက်မအထူခင်းထားရန်၊

(ည) စက်သုံးဆီသိုလှောင်ကန်များအနီးတွင် ရေရယူခြင်းစနစ်ကောင်းမွန်ရေးအတွက် မီးသတ်ပိုက်ခေါင်း (Fire Hydrant) များထားရှိရန်၊ သိုလှောင်ကန်အရေအတွက်နှင့် ပမာဏပေါ်တွင် မူတည်၍ ရေလိုအပ်ချက်အား မီးသတ်ဦးစီးဌာနနှင့် ဆက်သွယ်အကြံဉာဏ်ရယူရန်၊

(ဋ) စက်သုံးဆီသိုလှောင်ကန်များတွင် မီးလောင်မှုဖြစ်ပေါ်ပါက မီးသတ်ယာဉ်များ အလွယ်တကူဝင်ရောက် ငြိမ်းသတ်နိုင်ရေး၊ ဝင်/ထွက်လမ်းများ ဖြုဖြင့်ဖောက်လုပ်ထားရှိရန်နှင့် တစ်ဖက်ပိတ်လမ်း (Dead End) များမရှိစေရေး၊ လမ်းမကျဉ်းမြောင်းစေရေး မီးသတ်ကား၏ အလေးချိန်ဖြင့်သွားလာနိုင်ရေးဆောင်ရွက် ထားရှိရန်၊



ဦးတွန်းလင်း
ဒု-မီးသတ်ဦးစီးမှူး

ဦးသင်းဌေးရွှေ
ဒုတိယညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီး

ဦးဝင်းဝင်း
ဦးစီးအရာရှိ

နောက်ဆက်တွဲ (စ)



မြတ်မြင့်တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်

Myat Myinttar Mon Services Company Limited.

No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.

: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638

စာအမှတ်၊ MMTM / ၄၀၀၉ / ၂၀၁၂

ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ (၁၆) ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ ။ **မြတ်မြင့်တာမွန်ဝန်ဆောင်မှုကုမ္ပဏီ (Myat Myintta Mon Services Co.,Ltd) မှသီလဝါဆိပ်ကမ်းဒေသ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁ ၊ ၂ (အေ) တွင် ဆောင်ရွက်လျက်ရှိသည့် စက်သုံးဆီတင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်တာ စက်သုံးဆီများအား သိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင်သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများ လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာတင်ပြခြင်း။**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁. ၁၀. ၂၀၁၁ ရက်စွဲပါ စာအမှတ် ၊ ရက-မ(က)/မ-၁၁၈၉/၂၀၁၁ (၁၂၃၈၇-၈)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၂၈. ၁၁. ၂၀၁၁ ရက်စွဲပါစာအမှတ် ၊ ၂-၁၃/၁/၂၀၁၁ (၁၀၅၅/၂၀၁၁)

၁။ အထက်ဖော်ပြပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး သံလျင်-ကျောက်တန်းနယ်မြေ သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် - ၁ ၊ ၂ (အေ) တွင် မြတ်မြင့်တာမွန် ဝန်ဆောင်မှုကုမ္ပဏီမှ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်း လုပ်ငန်းကို ဆောင်ရွက်လျက်ရှိပါသည်။ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများအား လေ့လာဆန်းစစ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်အရလည်းကောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန လမ်းညွှန်ချက်အရလည်းကောင်း မြန်မာနိုင်ငံအတွင်းမှ National Engineering & Planning Services Co.,Ltd. သို့လုပ်ငန်းအပ်နှံ ဆောင်ရွက်လျက်ရှိပါသည်။

၂။ National Engineering & Planning Services Co.,Ltd. အဖွဲ့မှ သဘာဝပတ်ဝန်းကျင်အပေါ် ဆက်နွယ်သက်ရောက်မှုများကို ဆက်လက်လေ့လာဆောင်ရွက်ပြီး အစီရင်ခံရန် ပြည့်စုံပြီးစီးပါက စာတမ်း ပြုစု၍ တင်ပြသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းမြင့်
မန်နေဂျင်းဒါရိုက်တာ
မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီ

မိတ္တူကို-
- ရုံးလက်ခံ

NEPS

National Engineering & Planning Services Co., Ltd.

သို့

အုပ်ချုပ်မှုဒါရိုက်တာ

ရွှေတောင်ကုမ္ပဏီလီမိတက်

ရန်ကုန်မြို့

ရက်စွဲ ။ ။ ၁၅.၁၀.၂၀၁၂

စာအမှတ် ။ ။ ၁၃၂/လင/၂၀၁၂

အကြောင်းအရာ။ ။ သီလဝါ **Special Economic Zone** မှ **POL Storage and Port Facilities Project** ၏ **EIA & SIA** လုပ်ငန်းအတွက်အဆိုပြုလွှာ တင်ပြခြင်း။

အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ အထက်ပါလုပ်ငန်းအတွက် ပူးတွဲပါအဆိုပြုလွှာကို လိုအပ်သလို ဆောင်ရွက်နိုင်ရန် ပေးပို့အပ်ပါသည်။

ပူးတွဲလျက် – လုပ်ငန်းအဆိုပြုလွှာ (၁) စောင်

( ချိုချို )

အုပ်ချုပ်မှုဒါရိုက်တာ

အင်န်အီးပီအက်စ်ကုမ္ပဏီလီမိတက်

မိတ္တူကို

- မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်

880, YADANAR ROAD, SA/KHA QR., THINGANGYUN TOWNSHIP, YANGON, MYANMAR

TEL : 95-1-705197 FAX : 95-1-562407 E-mail : neps@myanmar.com.mm G-mail : nepservices@gmail.com


မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
Myat Myittar Mon Services Company Limited.
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , : 01 - 519629 , 519645 Fax : 01 - 519638




သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ MMMS/ MIC/ 2012 (1)
ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ၊(၂၇)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **"မြတ်မေတ္တာမွန်ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်"Myat Myinttar Mon Services Co., Ltd.**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင် ကန်များတည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင်ရန်၊ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Win Myint
Managing Director
Myat Myinttar Mon Services Co., Ltd.

# ၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
Myat Myinttar Mon Services Company Limited.
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ **MMMS/ MIC/ 2012(2)**
ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ၊(၂၇)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် **"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" Myat Myinttar Mon Services Co., Ltd.** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်- ၁၊ ၂ (အေ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်သည့်ဝန်ဆောင်မှု လုပ်ငန်းကိုလုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ **"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (Myat Myinttar Mon Services Co., Ltd.)** သည် **BOT** စနစ်ဖြင့် မြေကိုငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင် ကန်များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုကျပ်(၂၂,၄၁၄)သန်း၊ ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ လိုအပ်သော စက်ပစ္စည်း ကိရိယာများကို ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူတပ်ဆင်မည်ဖြစ်ပါသည်။ ကျွန်တော်တို့၏ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်သည့်လုပ်ငန်း ဆောင်ရွက်ရာတွင် နိုင်ငံတကာ အဆင့်မီခေတ်မီစက်ကရိယာများဖြင့် တည်ဆောက်လုပ်ကိုင်မည်ဖြစ်ပြီး၊ နိုင်ငံခြားငွေရရှိနိုင်သော ဝန်ဆောင်မှုလုပ်ငန်း ဖြစ်ပါသည်။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ

သိုလှောင်ကန်များ တည်ဆောက်သည့် လုပ်ငန်းအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုကျပ် (၂၂,၄၁၄)သန်းတွင် **US$(0.419)**သန်းအပါအဝင် ငွေသားကျပ်သန်း(၄၆၆. ၆၂၅)၊ စက်ပစ္စည်းကရိယာတန်ဖိုး **US$(15)**သန်း အပါအဝင်ကျပ် (၁၃,၅၇၇)သန်း၊ ဆိပ်ခံတံတားအတွက် ကုန်ကျစရိတ် **US$(2.581)**သန်းအပါအဝင် ကျပ် (၅,၀၂၅. ၃၇၅)သန်း၊ ဆီသိုလှောင်ကန်ကျပ် (၂,၅၃၀)သန်း၊ အခြားအဆောက်အဦးအတွက် ကုန်ကျစရိတ်ကျပ် (၂၁၀) သန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းတန်ဖိုးကျပ်(၆၀)သန်းနှင့် အခြားလုပ်ငန်းများ ဖြစ်သော (အကြိုအင်ဂျင်နီယာလုပ်ငန်း၊ ဆိပ်ကမ်းလွင်ပြင်၊ ရေပေးဝေမှုစနစ်၊ လျှပ်စစ်ဖြန့်ဖြူးရေးစနစ်၊ မြေအသုံးချမှုပရီမီယံကြေး)တို့အတွက် ကျပ် (၅၄၅)သန်းတို့ဖြင့် ထည့်ဝင်ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏စီးပွားရေးဖွံ့ဖြိုး တိုးတက်လာစေရန်အတွက်လည်းကောင်း၊ ကျွန်တော်တို့ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂နှင့် ၁၃တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၅။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုလုပ်သူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) **BOT** စနစ်ဖြင့် ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်(မူကြမ်း)၊

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(င) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

လေးစားစွာဖြင့်

U Win Myint
Managing Director
**Myat Myinttar Mon Services Co., Ltd.**



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
Myat Myinttar Mon Services Company Limited.
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638



သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ်။ ။**MMMS/ MIC/ 2012(3)**
ရက်စွဲ ။ ။၂၀၁၂ ခုနှစ်ဒီဇင်ဘာ လ(၂၇)ရက်။

**အကြောင်းအရာ ။ ။"မြတ်မေတ္တာမွန် ကုမ္ပဏီလီမိတက်"(Myat Myinttar Mon Services Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (Myat Myinttar Mon Services Co., Ltd.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၁၊ ၂(အေ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို တည်ထောင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(င) **မီးဘေးကြိုတင်ကာကွယ်မှုအတွက် အစီအမံများပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။**

(စ) လုပ်ငန်းအတွက်စက်ပစ္စည်းများတင်သွင်းရာတွင် ရေကြောင်းခရီး/ လေကြောင်းခရီးတို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) **လျှပ်စစ်မီးအသုံးပြုမှုနှင့် ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့်** အခါတွင် ကိုယ်ပိုင် **Generator** ဖြင့် အသုံးပြုမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

Managing Director
**Myat** Myinttar Mon Services Co., Ltd.



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
*Myat Myinttar Mon Services Company Limited.*
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638



သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ၊(၂၇)ရက်။

အကြောင်းအရာ ။ ။"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" **(Myat Myinttar Mon Services Co., Ltd.)**မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ "မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" **(Myat Myinttar Mon Services Co., Ltd.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၁၊၂(အေ)တွင်၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့် စက်သုံးဆီ သိုလှောင်ကန်များတည်ဆောက်ပြီး၊ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ မည်သည့် နိုင်ငံခြားမှလုပ်ငန်းရှင်များ ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Win Myint
Managing Direc...



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်
*Myat Myinttar Mon Services Company Limited.*
No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , ☎ : 01 - 519629 , 519645 Fax : 01 - 519638



သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ( )ရက်။

အကြောင်းအရာ ။ ။"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်"(Myat Myinttar Mon Services Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင် ကန်များတည်ဆောက်ကာ ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား အသုံးပြုမှုနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (Myat Myinttar Mon Services Co., Ltd.)** ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၁၊ ၂ (အေ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင် ကန်များ တည်ဆောက်ကာ စက်သုံးဆီများသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတည်ဆောက်၍ စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ပြီး၊ စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အား အသုံးပြုမှုနှင့်ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အားအလုံအလောက်မရရှိသည့်အခါတွင် ကိုယ်ပိုင် **Generator** ဖြင့် အသုံးပြုသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Win Myint
Managing Director
Myat Myinttar Mon Services Co., Ltd.

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ ပုံစံ (မနသ-၁) အဆိုပြုချက်



မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်

Myat Myittar Mon Services Company Limited.

No. 56-57, 6th Street, Hlaing Yadanar Mon Estate, Hlaing Township, Yangon.
: 09 - 5010044 , 09 - 5003825 , : 01 - 519629 , 519645 Fax : 01 - 519638

ခွင့်ပြု မ,တည်ရင်နှီးတိုးမြင့်ရန် ဝန်ခံကတိပြုချက်

"မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" **(Myat Myinttar Mon Services Co., Ltd.)** အနေဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို ငှားရမ်း၍ **BOT** စနစ်ဖြင့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့် စက်သုံးဆီသို လှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင်ရန်အတွက် ကုမ္ပဏီ၏ခွင့်ပြုမ,တည်ငွေရင်းကို ခွင့်ပြုမိန့်ရရှိလျှင် ထပ်မံတိုးမြင့်ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Win Myint
Managing Director
Myat Myinttar Mon Services Co., Ltd



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ **MMMS/ MIC/ 2012 (4)**
ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၇)ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

| | | |
|---|---|---|
| (က) | အမည် | - ဦးဝင်းမြင့် |
| (ခ) | အဖအမည် | - ဦးသန်းတင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၂/ကတတ (နိုင်) ၀၀၄၇၃၁ |
| (ဃ) | နေရပ်လိပ်စာ | - အမှတ် (၅၆-၅၇)၊ လှိုင်ရတနာမွန် (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | လူမျိုး/ဘာသာ | - ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - မြတ်မေတ္တာမွန် ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်<br>**Myat Myinttar Mon Services Company Limited.** |
| (ဆ) | လုပ်ငန်းအမျိုးအစား | - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှမြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း။ |
| (ဇ) | အဖွဲ့အစည်းတည်နေရာအရပ် | - အမှတ် (၅၆/၅၇)၊ (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)............ (၂).............
............ .............

(ခ) အဖအမည် (၁)............ (၂).............
............ .............

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁)............ (၂).............
............ .............
............ .............

(ဃ) နေရပ်လိပ်စာ (၁)............ (၂).............
............ .............
............ .............

(င) လူမျိုးဘာသာ (၁)............ (၂).............
............ .............
............ .............

(စ) အဖွဲ့အစည်းအမည် ..........................

(ဆ) လုပ်ငန်းအမျိုးအစား ..........................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ..........................
..........................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -........................

(ခ) ဝန်ဆောင်မှုလုပ်ငန်း -မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း။

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
............. **လီမိတက် ကုမ္ပဏီ** ...............

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
....................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
....................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင် - ........................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း - ........................

(ဂ) လီမိတက်ကုမ္ပဏီ - **မြတ်မေတ္တာမွန်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်**
**(Myat Myinttar Mon Services Co., Ltd.)**

(ဃ) သမဝါယမအသင်း - ........................
(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ (၁)**

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ
....................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား ........................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ........................
(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမ,တည်ငွေရင်း **-ကျပ် ၁,၀၀၀,၀၀၀,၀၀၀/ (ကျပ်သန်းတစ်ထောင်တိတိ)**

(ခ) အစုရှယ်ယာအမျိုးအစား- **ကျပ် ၁၀၀,၀၀၀ တန် အစုရှယ်ယာ ၁၀,၀၀၀**

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့် အစုရှယ်ယာပမာဏ- **၁၀,၀၀၀ ရှယ်ယာ**
**(ကျပ်၁,၀၀၀,၀၀၀,၀၀၀)**

**(ခွင့်ပြုချက်ရရှိပါက ခွင့်ပြုမ,တည်ငွေရင်းကို တိုးမြှင့်မည်ဖြစ်ပါသည်။)**

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

(က) မ,တည်ငွေရင်းပမာဏ (သန်းပေါင်း)

| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ- | ၁၀၀ | ၀.၄၁၉ | ၄၆၆.၆၂၅ |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၂) | ၄၅၂ | ၁၅ | ၁၃,၅၇၇ |
| (၃) အဆောက်အအုံ | | | |
| - ဆိပ်ခံတံတား | ၂,၇၆၇ | ၂.၅၈၁ | ၅,၀၂၅.၇၇၅ |
| - ဆီသိုလှောင်ကန်များ | ၂,၅၃၀ | - | ၂,၅၃၀ |
| - အခြားအဆောက်အအုံများ နောက်ဆက်တွဲ (၃) | ၂၁၀ | - | ၂၁၀ |
| (၃) မြေ | - | - | - |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၃) | ၆၀ | - | ၆၀ |
| (၆) အခြားလုပ်ငန်းများ- (အကြိုအင်ဂျင်နီယာလုပ်ငန်း၊ ဆိပ်ကမ်းလွှင့်ပြင်၊ ရေပေးဝေမှုစနစ်၊ လျှပ်စစ်ဖြန့်ဖြူးရေးစနစ်၊ မြေအသုံးချမှုပရီမီယံကြေး) | ၅၄၅ | - | ၅၄၅ |
| စုစုပေါင်း | ၆,၆၆၄ | ၁၈ | ၂၂,၄၁၄ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | ကျပ် (၀၀၀) | US$(၀၀၀) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | ၁၅,၇၅၀ | ၁၈ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများ၏တန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| စုစုပေါင်း | ၁၅,၇၅၀ | ၁၈ |

(ဂ) တည်ဆောက်မှုကာလ - (၂၄) လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၁၀) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီးလျှင်ပြီးခြင်း လုပ်ငန်းစတင်မည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - မြန်မာ့ဆိပ်ကမ်းအာဏာ ပိုင်မှ မြေကို **BOT** စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန် တည်ဆောက်ပြီး၊ စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည့်လုပ်ငန်းဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ- ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ မြေကွက်အမှတ် မြေကွက်အမှတ် -၁၊ ၂ (အေ)

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း၊

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၁၀၀,၀၀၀ ဂါလံ |
| ၂။ | ဓာတ်ဆီ | ၅၀,၀၀၀ ဂါလံ |
| ၃။ | စက်ဆီ၊ ချောဆီ | ၂၀,၀၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ၈,၇၆၀,၀၀၀ ယူနစ် |
| ၂။ | ဓာတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | .................. |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | .................. |
| ၄။ | သဘာဝဓာတ်ငွေ့သုံး စက်အား | .................. |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအား စသည်များ) | .................. |

(စ) နှစ်စဉ် ရေလိုအပ်ချက် (နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) — နှစ်စဉ်ရေ (၁၀၉၅၀၀၀)ဂါလံ တစ်နေ့လျှင် (၃၀၀၀)ဂါလံ

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်-

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | ၁။ ........ | ........ | ........ | ........ |
| | ၂။ ........ | ........ | ........ | ........ |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) ........ | ........ | ........ | ........ |
| | ........ | ........ | ........ | ........ |
| ၃။ | စက်သုံးဆီ/ ဓါတ်ငွေ့များ- | | | |
| | (၁) ........ | ........ | ........ | ........ |
| | (၂) ........ | ........ | ........ | ........ |

(ဇ) အဆောက်အအုံ လိုအပ်ချက်- - ဆီတင်/ချ ဆိပ်ခံတံတား၊ စက်သုံးဆီသိုလှောင်ကန်များ နှင့် ရုံးအဆောက်အဦးများ အဆောက်အအုံများ၊

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် -မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ (၂၄. ၇၁)ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောက်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| (၁) | ........ | ........ | ........ | ........ |
| (၂) | ........ | ........ | ........ | ........ |

(ဋ) ရောင်းချမည့်နည်းစနစ် - ပြည်တွင်း ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြား သင်္ဘောများအတွက် နိုင်ငံခြားငွေဖြင့် ရယူပါ သည်။

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ခန့်မှန်းခြေ (သန်းပေါင်း) | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၁၀၀ | ၀. ၄၁၉ |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | - |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | - | - |

(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် - -
ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ - -

(င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် - -
ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ-

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ဝန်ထမ်း | ၇၇ ဦး |

နောက်ဆက်တွဲ (၁၁)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| ............ | ...... | .......... |

(နိုင်ငံခြားသားကျွမ်းကျင်သူ/ပညာရှင်များ၏ ကုန်ကျစရိတ်ကို ကုမ္ပဏီမှကျခံရန်မလိုပါ) တည်ဆောက်မှုကာလအတွက်သာ ဖြစ်ပါသည်။

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ကျပ်ငွေ (သန်းပေါင်း) | နိုင်ငံခြားငွေ (သန်းပေါင်း) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲ (၅) | - | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲ ၆) | - | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲ ၆) | - | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်)ကျပ် | - | - |
| (င) | အရင်းကျေကာလ | (၉)နှစ်၊ (၃)လ | **IRR-12%** |
| (စ) | အခြားအကျိုးအမြတ်များ | - အလုပ်အကိုင် ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီးနိုင်ငံတော်အတွက် ဝင်ငွေရရှိ မည်ဖြစ်ပါသည်။ | |

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ - အလုပ်သမား ၇၇ ဦး အလုပ်အကိုင်ရရှိပါမည်။

နောက်ဆက်တွဲ (၁၁)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)
(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊
(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း၊ မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

U Win Myint
Managing Director
Myat Myinttar Mon Services Co., Ltd.

လက်မှတ်၊................
အမည် ၊ဦးဝင်းမြင့်
ရာထူး ၊မန်နေဂျင်းဒါရိုက်တာ
မြတ်မေတ္တာမွန် ဝန်ဆောင်မှု
ကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ ( ၁ )

# MYAT MYINTTAR MON SERVICES CO., LTD.

## List of Executives

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | ရာထူး | ရှယ်ယာ | နေရပ်လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဦးဝင်းမြင့် | မြန်မာ ၁၂/ကတတ(နိုင်) ၀၀၄၇၃၁ | မန်နေဂျင်း ဒါရိုက်တာ | ၂၀၀ | အမှတ်-၅၆/၅၇၊ (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ |
| ၂။ | ဒေါ်ခိုင်ခိုင်ဦး | မြန်မာ ၁၂/ကတတ(နိုင်) ၀၀၄၆၇၈ | ဒါရိုက်တာ | ၁၀၀ | အမှတ်-၅၆/၅၇၊ (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | ဦးဝေယံဖြိုးပြည့်ဝင်း | မြန်မာ ၁၂/လမန(နိုင်) ၁၄၆၄၄၈ | ဒါရိုက်တာ | ၁၀၀ | အမှတ်-၅၆/၅၇၊ (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၄။ | ဦးထွန်းခိုင်ဝင်း | မြန်မာ ၁၂/လမန(နိုင်) ၁၅၂၉၈၀ | ဒါရိုက်တာ | ၁၀၀ | အမှတ်-၅၆/၅၇၊ (၆)လမ်း၊ လှိုင်ရတနာမွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

နောက်ဆက်တွဲ (၂)

# Myat Myittar Mon Service Co,Ltd

## ပြည်တွင်းမှ ဝယ်ယူမည့် စက်ပစ္စည်းကရိယာ

(Kyat in Million)

| Sr. | Particular | Quantity | | PAE Rate | | Amount Kyat |
|---|---|---|---|---|---|---|
| 1 | - Fencing | | | | | |
| | (a) Fence | 7300 | Ft | 42000 | K/ Ft | 306.60 |
| | (b) Gate Door (60' x 5 x 4 nos) | 6200 | Fs | 6000 | K/ Fs | 37.20 |
| | Oily Water System & Concreate Separator, Pipe | | | | | |
| 2 | - Rain Water Pond (120' x 250' x 5') | 1500 | Suds | 5000 | K/ Sud | 7.50 |
| 3 | - Stone Pitching Approach Mole & Revetment | 900 | Ft | 12000 | K/ Ft | 10.80 |
| 4 | - Car Parking (120' x 338') (40560 Fs) | | | | | |
| | (a) Concrete Work | 800 | $m^3$ | 85000 | K/ $m^3$ | 68.00 |
| | (b) Landscaping | 200 | Suds | 9000 | K/ Sud | 1.80 |
| | (c) Gate House (13' x 11' x 12') | | | | | |
| 5 | - Landscaping (202462 Fs) | | | | | |
| | (a) Grass | 600 | Suds | 9000 | K/ Sud | 5.40 |
| | (b) Bush & Ground Cover | 2000 | Suds | 1000 | K/ Sud | 2.00 |
| | (c) Tress | 2500 | Nos | 5000 | K/ No | 12.50 |
| | **Sub Total** | | | | | **451.80** |

